ကန့်သတ်

ကုမ္ပဏီအမည် - Sun Myanmar International Impex Company Limited

လုပ်ငန်း - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Sun Myanmar International Impex Company Limited မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချို နှင့် ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၁-၅-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့ အကြောင်းကြားခြင်း | ၁၇-၅-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၅-၂၀၁၆ | | |
| | | ၂၉-၆-၂၀၁၆ | ၁၆-၈-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၁၇-၅-၂၀၁၆ | ၂၀-၅-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၈-၅-၂၀၁၆ | ၃-၆-၂၀၁၆ | |
| | (ဃ) စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၂၀-၅-၂၀၁၆ | ၁၀-၆-၂၀၁၆ | |
| | | ၁၆-၆-၂၀၁၆ | ၁-၇-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း (၁၈/၂၀၁၆) | ၁၆-၅-၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၇-၅-၂၀၁၆ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | | | လိုအပ်ချက် မရှိ၍ ပြန်ကြားခြင်း မရှိပါ |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၂၃-၈-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၃၀-၈-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂-၉-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၁၁၅ ရက် | | |

၁။ ကုမ္ပဏီအမည် Sun Myanmar International Impex Company Limited
၂။ အဖွဲ့အစည်းပုံသဏ္ဍာန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချို နှင့် ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း
၄။ တည်နေရာ ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊စက်မှုဇုန်၊ မြေတိုင်းရပ်ကွက် အမှတ်-၂၃၊မြေကွက်အမှတ်-၄၆၉/၃၊
၅။ စုစုပေါင်းမတည်ငွေရင်း - ကျပ် ၈၉၇.၅၀ သန်း
၆။ ရောင်းချမည့်စနစ် - ၁၀၀ % ပြည်ပတင်ပို့ ရောင်းချမည် ဖြစ်ပါသည်။
၇။ လုပ်ငန်းသက်တမ်း - ၅၀ နှစ်
၈။ အရင်းကြေကာလ - ၄နှစ် ၂လ
၉။ IRR - ၁၆.၆၄%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၂.၅ | |
| ၄ | ဝင်ငွေခွန် | ၂၁၇.၈၃၀ | ၉၃၈.၄၃၀ |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၅၇.၉၄၆ |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း လေးဆယ့်ရှစ်သိန်း ထက်ကျော် ပါကအခွန်ပေးရမည့် ဝန်ထမ်းဦးရေမရှိပါ |
| ၇ | CSR (၂%) | | ၄၂.၄၆၉ |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၈၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၂၃၂.၄၉၀ | ၁၀၄၀.၀၁၀ |
| | Cost & Benefit | ၁:၅ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Sun Myanmar International Impex Company Limited မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချို နှင့် ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Sun Myanmar International Impex Company Limited<br>- ဦးမျိုးအောင် (အဘ-ဦးရေး) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချို နှင့် ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃၊ |
| | မြေပိုင်ရှင် | - ဦးလင်အိပိန်(ခ)ဦးကျော်မြင့် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂.၅၇၁ ဧက အနက်မှ ၀.၃၁ ဧက (၁,၂၅၄.၅၂ စတုရန်းမီတာ) |
| | မြေငှားရမ်းခ | - ၀.၃၁ ဧက အတွက် တစ်နှစ်လျှင် ၆,၀၀၀,၀၀၀ ကျပ် (တစ်နှစ် တစ်စတုရန်းမီတာလျှင် ၄,၇၈၃ ကျပ်နှုန်း) |
| | အဆောက်အဦအကျယ်အဝန်း | - သုံးထပ်အဆောက်အဦ ၁ လုံး(အလျား ၁၁၀' x အနံ ၈၀') |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၄။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၈၉၇.၅၀ သန်း(အမေရိကန်ဒေါ်လာ ၀.၁၀ သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | |

| | **ပြည်ပ (US$/သန်း)** | **ပြည်တွင်း (ကျပ်/သန်း)** | **စုစုပေါင်း (ကျပ်/သန်း)** |
|---|---|---|---|
| ငွေသား | | ၂၀၀.၀၀ | ၂၀၀.၀၀ |
| စက်နှင့် စက်ပစ္စည်း(ပြည်တွင်းဝယ်) | | ၃၉၂.၅၀ | ၃၉၂.၅၀ |
| စက်နှင့် စက်ပစ္စည်း(ပြည်ပဝယ်) | ၀.၁၀ | | ၁၂၅.၀၀ |
| မြေနှင့် အဆောက်အဦငှားရမ်းခ | | ၁၈၀.၀၀ | ၁၈၀.၀၀ |
| **စုစုပေါင်း** | ၀.၁၀ | ၇၇၂.၅၀ | ၈၉၇.၅၀ |

| | | |
|---|---|---|
| ၅။ | ဝန်ထမ်းအင်အား | - **ပြည်တွင်း ၈၁ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂၅၀,၀၀၀ကျပ်) |
| ၆။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပတင်ပို့ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်ပတင်ပို့) | |

| **စဉ်** | **ပစ္စည်းအမျိုးအစား** | **အရေအတွက် (M.Ton)** | **လက်ခဈေးနှုန်း (US$/M.Ton)** |
|---|---|---|---|
| (၁) | Mackerel | ၁၇၆.၃၂ | ၅၁၀.၀၀ |

| | | |
|---|---|---|
| | | **စဉ် ပစ္စည်းအမျိုးအစား အရေအတွက် (M.Ton) လက်ခဖျေးနှုန်း (US$/M.Ton)**<br>(၂) Grouper ၇၀.၅၃ ၅၀၅.၀၀<br>(၃) Seer Fish ၇၀.၅၃ ၅၀၅.၀၀<br>(၄) Giant Cat Fish ၇၀.၅၃ ၅၀၅.၀၀<br>(၅) Trevally ၇၀.၅၃ ၅၀၀.၀၀<br>(၆) Long Tail Tuna ၆၄.၆၅ ၅၀၀.၀၀<br>(၇) Squid ၆၄.၆၅ ၅၀၀.၀၀<br>(၈) Pomfret ၆၄.၆၅ ၄၉၀.၀၀<br>(၉) White Shrimp ၂၉.၃၉ ၆၀၅.၀၀<br>(၁၀) Pink Shrimp ၂၉.၃၉ ၆၀၅.၀၀ |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်ပြောက်)<br>အသုံးစရိတ်<br>ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - ကျပ် ၄၅၅.၆၃၈ သန်း<br>- ကျပ် ၂၆၂.၈၀၂ သန်း<br>- ကျပ် ၁၉၂.၈၃၆ သန်း |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | <br>- ကျပ် ၆၄.၂၇၈ သန်း<br>- ၄နှစ် ၂လ<br>- ၁၆.၆၄% |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၀၀KVA |
| ၁၀။ | အခြားတင်ပြချက် | - Sun Myanmar International Impex Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်၊ MOA, AOA (မိတ္တူ) များ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏မှတ်ပုံတင်မိတ္တူတင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးလင်အိပိန်နှင့် မြေငှားသူ ဦးမျိုးအောင် တို့ ချုပ်ဆိုထားသော မြေငှားစာချုပ် မူကြမ်း တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးလင်အိပိန်အမည်ဖြင့် ရရှိထားသော မြေပိုင်ဆိုင်မှုအထောက်အထားများ တင်ပြထားပါသည်။<br>- Sun Myanmar International Impex Company Limited ၏ ၂၀၁၄-၂၀၁၅ ဘဏ္ဍာရေးနှစ်အတွက် ဝင်ငွေခွန် ပေးသွင်းထားကြောင်း အထောက်အထားများနှင့် ငွေစာရင်းရှင်းတမ်းများ တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်တွင် ဦးမျိုးအောင်အမည်ဖြင့် ၂၃-၁၁-၂၀၁၅ရက်နေ့တွင် ကျပ် ၅၁,၃၃၀,၈၆၁.၈၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- ကုန်ကြမ်းများကို EU၊ ဂျပန်နှင့် ဗီယက်နမ်နိုင်ငံများမှ တင်သွင်းပြီး ကုန်ချောများကို ထိုင်းနှင့် ဂျပန်နိုင်ငံများသို့ တင်ပို့မည် ဖြစ်ပါသည်။<br>- လုပ်ငန်းသက်တမ်းမှာ နှစ် ၅၀+၁၀+၁၀ ဖြင့် တင်ပြထားပြီး မြေဂရန်သက်တမ်းမှာ နှစ် ၄၀ သာကျန်ရှိသဖြင့် မြေငှားသက်တမ်းအား ကနဦး ၃၅ နှစ်သာ တင်ပြထားပါသည်။<br>- Nihon Kaito၊ Sun Myanmar Group Companies နှင့် Myanmar Kait Company Limited တို့အကြား လက်ခစားစနစ်ဖြင့် အကျိုးတူပူးပေါင်းဆောင်ရွက်မည့် သဘောတူစာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1250 Kyats ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/မ-၂၃၆/၂၀၁၆( ၆၄၁ )

ရက်စွဲ ၊ ၂၀၁၆ခုနှစ် ဩဂုတ်လ ၎ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Sun Myanmar International Impex Company Limited. မှ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုု နှင့် ရေငန် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Sun Myanmar International Impex Company Limited. မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ ရှိ စုစုပေါင်းမြေဧရိယာ ၂.၅၇၁ ဧက အနက်မှ ၀.၃၁ ဧက (၁,၂၅၄.၅၂ စတုရန်းမီတာ) ကို Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ ကျပ် ၈၉၇.၅၀ သန်း(အမေရိကန်ဒေါ်လာ ၀.၁၀ သန်း အပါအဝင်) ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| စဉ် | အမျိုးအစား | ပြည်ပ (US$/သန်း) | ပြည်တွင်း (ကျပ်/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | | ၂၀၀.၀၀ | ၂၀၀.၀၀ |
| (ခ) | စက်နှင့်စက်ပစ္စည်း(ပြည်တွင်းဝယ်) | | ၃၉၂.၅၀ | ၃၉၂.၅၀ |
| (ဂ) | စက်နှင့်စက်ပစ္စည်း(ပြည်ပဝယ်) | ၀.၁၀ | | ၁၂၅.၀၀ |
| (ဃ) | မြေနှင့်အဆောက်အဦငှားရမ်းခ | | ၁၈၀.၀၀ | ၁၈၀.၀၀ |
| | **စုစုပေါင်း** | **၀.၁၀** | **၇၇၂.၅၀** | **၈၉၇.၅၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၈၁ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၈,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂၅၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် လက်ခဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ပြည်ပပို့ ၁၀၀%**

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (MT) | လက်ခဈေးနှုန်း (US$/MT) |
|---|---|---|---|
| (၁) | Mackerel | ၁၇၆.၃၂ | ၅၁၀.၀၀ |
| (၂) | Grouper | ၇၀.၅၃ | ၅၀၅.၀၀ |
| (၃) | Seer Fish | ၇၀.၅၃ | ၅၀၅.၀၀ |
| (၄) | Giant Cat Fish | ၇၀.၅၃ | ၅၀၅.၀၀ |
| (၅) | Trevally | ၇၀.၅၃ | ၅၀၀.၀၀ |
| (၆) | Long Tail Tuna | ၆၄.၆၅ | ၅၀၀.၀၀ |
| (၇) | Squid | ၆၄.၆၅ | ၅၀၀.၀၀ |
| (၈) | Pomfret | ၆၄.၆၅ | ၄၉၀.၀၀ |
| (၉) | White Shrimp | ၂၉.၃၉ | ၆၁၅.၀၀ |
| (၁၀) | Pink Shrimp | ၂၉.၃၉ | ၆၁၅.၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၅၅.၆၃၈ |
| (ခ) | အသုံးစရိတ် | ၂၆၂.၈၀၂ |
| (ဂ) | အသားတင်အမြတ် | ၁၉၂.၈၃၆ |

၇။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၆၄.၂၇၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၆.၆၄% ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ Sun Myanmar International Impex Company Limited. မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်း

ဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ ရှိ စုစုပေါင်းမြေဧရိယာ ၂.၅၇၁ ဧက အနက်မှ ၀.၃၁ ဧက (၁,၂၅၄.၅၂ စတုရန်းမီတာ) ကို Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မှုအား ကန့်ကွက်ရန်မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည် ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဃ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်တွင် ဦးမျိုးအောင် အမည်ဖြင့် ၂၃-၁၁-၂၀၁၅ ရက်နေ့တွင် ကျပ် ၅၁,၃၃၀,၈၆၁.၈၀ ရှိကြောင်း ငွေကြေးအထောက် အထား တင်ပြထားပါသည်။

၁၀။ Sun Myanmar International Impex Company Limited မှ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ **စိစစ်တင်ပြချက်**

(က) လုပ်ငန်းသက်တမ်းမှာ နှစ် ၅၀+၁၀+၁၀ ဖြင့် တင်ပြထားပြီး မြေဂရန်သက်တမ်းမှာ နှစ် ၄၀ သာကျန်ရှိသဖြင့် မြေငှား သက်တမ်းအား ကနဦး ၃၅ နှစ်သာ တင်ပြထား ပါသည်။

(ခ) Nihon Kaito၊ Sun Myanmar Group Companies နှင့် Myanmar Kait Company Limited တို့အကြား လက်ခစားစနစ်ဖြင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်မည့် သဘောတူ စာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဈ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ မြန်မာနိုင်ငံ Sun Myanmar International Impex Company Limited. မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ ရှိ စုစုပေါင်းမြေဧရိယာ ၂.၅၇၁ ဧက အနက်မှ ၀.၃၁ ဧက (၁,၂၅၄.၅၂ စတုရန်းမီတာ) ကို ငှားရမ်းကာ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါးပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Sun Myanmar International Impex Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးမျိုးအောင်<br>၁၂/ တမန (နိုင်) ဝ၅၂၁၇၃ | ဒါရိုက်တာ | အမှတ်-၂၇၊ ၁၄၅ လမ်း၊ ကျောက်မြောင်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၂ | ဒေါ်ခင်ခင်သိန်း<br>၁၂/ တမန(နိုင်) ဝ၅၁၈၁၃ | ဒါရိုက်တာ | အမှတ်-၂၇၊ ၁၄၅ လမ်း၊ ကျောက်မြောင်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | ဝ၉-၅ဝ၃၇ဝ၈၄ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | အမှတ်-၂၇၊ ၁၄၅ လမ်း၊ ကျောက်မြောင်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | ဦးမျိုးအောင် |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့် ရေငန် ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | ၄၄၂/၁၉၉၄-၁၉၉၅ (၉-၈-၁၉၉၄) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | ၁-၄-၂ဝ၁၃ မှ ၃၁-၃-၂ဝ၁၈ |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - |

MIC, 262
1618




နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈. ၅. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၆/၂၀၁၆(၄၂၅)

၁။ Sun Myanmar International Impex Company Limited မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ရှိစုစုပေါင်းမြေဧရိယာ ၂. ၅၇၁ ဧကအနက်မှ ၀. ၃၁ ဧက (၁,၂၅၄. ၅၂ စတုရန်းမီတာ)ကို ငှားရမ်းကာ Contract Processing (လက်ခစားစနစ်)စနစ်ဖြင့် ရေချိုနှင့် ရေငန်ငါး၊ ပုဇွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်းကို ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Sun Myanmar International Impex Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

MIC, 223/3016

DDF_1554 ၈-၇-၆-၁၆

၃၅ 43/28/6/16

နောက်ဆက်တွဲ-ခ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀၁/ မွေးရေကျေး(၅၈၀ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇွန်လ ၂၄ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၅-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ- ၂၃၆/ ၂၀၁၆ (၄၂၈)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၂၀-၆-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ငလ/နပတ- ၅/၂၀၁၆-၂၀၁၇ / ၁၉၃၆

၁။ Sun Myanmar International Impex Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်-၁၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ ရှိ စုစုပေါင်း မြေဧရိယာ ၂.၅၇၁ ဧက အနက်မှ ၀.၃၁ ဧက (၁,၂၅၄.၅၂ စတုရန်းမီတာ) ကိုငှားရမ်းကာ Contract Processing (လက်ခစားစနစ်) စနစ်ဖြင့် ရေချိုနှင့်ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၁) ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Sun Myanmar International Impex Company Limited မှ အဆိုပြုတင်ပြခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) **ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ၊မရှိ**

အဆိုပြုချက်တွင်ဖော်ပြထားသော Contract Processing စနစ်အတွက် ကုန်ကြမ်း ရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင်ပျမ်းမျှကုန်ကြမ်း (၉၄၈.၈၆၉) တန်မှ ကုန်ချော (၅၆၉.၃၂၁၄) တန်ခန့်ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင်ကုန်ချော (၁.၅၂)တန်ခန့်ထွက် ရှိနိုင်မည်ဖြစ်ပါသည်။

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ချေကိုက်မှုရှိ၊မရှိ**

အဆိုပြုချက်တွင်ဖော်ပြထားသော Contract Processing စနစ်အတွက် လုပ်အားခ မှာတစ်တန်လျှင် အမေရိကန်ဒေါ်လာ(၅၂၄.၅၀) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင်

Ministry Office Letter Head (New))

ထုတ်လုပ်နိုင်မည့်ကုန်ကြမ်း တန် (၉၄၈.၈၆၉) တွင်ကုန်ချော (၅၆၉.၃၂၁၄) ထွက်ရှိပြီးအမေရိကန် ဒေါ်လာ (၂၉၈၆၀၉.၀၇၄၃) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် Sun Myanmar International Impex Co., Ltd ၏ ဖော်ပြထားသောအချက်အလက်များအရ ဈေးနှုန်းဆိုင်ရာ တွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/ လူအင်အား အချိုးအစား ညီမျှမှုရှိ၊ မရှိ**

စက်ရုံတွင်တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာငါး/ ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer (1 MT/ 6 hrs x 1 No), Air Blast Freezer (5 MT/ 7 hrs x 1 No)နှင့် (10 MT/ 12 hrs x 2 No), တပ်ဆင်ထားပြီး စက်၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး(၁၀)တန်၊ ပုစွန် (၁.၅)တန် ထုတ်လုပ်နိုင်ကြောင်းသိရှိရပါသည်။ အဆိုပါစက်များကိုင်တွယ်မောင်းနှင်ရန်အတွက် စက်မောင်း (၈) ဦးနှင့် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်းစုစုပေါင်း (၇၃)ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့်စက်အင်အား၊ လူအင်အားအချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) **အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ချေကိုက်မှုရှိ၊မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေး တွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရသိရှိရပါသည်။ ထို့အပြင်အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကိုသန့်စင်သောစနစ်၊ အနံ့ဆိုးများကိုသန့်စင်သောစနစ် မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များ တွေ့ရှိရပါသည်။

၃။ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ငါးလုပ်ငန်းဦးစီးဌာနအနေဖြင့် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့်ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား အရည်အသွေးနှင့်စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသဖြင့် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက Sun Myanmar International Impex Company Limited ၏ လက်ခစားစနစ်ဖြင့် ပြုပြင်ထုတ်လုပ်အေးခဲခြင်းလုပ်ငန်းကိုဆောင်ရွက်ရန် အဆိုပြုချက်အား ကန့်ကွက်ရန်မရှိကြောင်း ငါးလုပ်ငန်းဦးစီးဌာနမှ ရည်ညွှန်းချက်(၂)ပါစာဖြင့် တင်ပြထားပါသည်။

၄။ သို့ဖြစ်ပါ၍ Sun Myanmar International Impex Company Limited မှ Contract Processing (လက်ခစားစနစ်)စနစ်ဖြင့် ရေချိုနှင့်ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို

ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်းအပေါ် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) Sun Myanmar International Impex Company Limited

(၃) ရုံးလက်ခံ

(၄) မျှော





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ငါးလုပ်ငန်းဦးစီးဌာန

စာအမှတ်၊ ငလ/ နပတ-၅/၂၀၁၆-၂၀၁၇/ ၁၉၃၆
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇွန်လ ၂၀ ရက်

အကြောင်းအရာ။ Sun Myanmar International Co., Ltd မှ Contract Processing စနစ်ဖြင့် ငါး၊ ပုစွန် အေးခဲထုတ်လုပ်ခြင်းနှင့်အရည်အသွေးမြင့်မားသည့် ငါး၊ ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည် ညွှန်း ချက် ။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၇-၅-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ၃/၃၀၀၀/မွေးရေကျေး(၆၇၄/၂၀၁၆)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ မြေကွက်အမှတ် (၄၆၉/၃) ရှိ မြေအကျယ်စုစုပေါင်း (၂.၅၇၁)ဧက အနက်မှ(၀.၃၁) ဧက (၁၂၅၄.၅၂ စတုရန်းမီတာ)ကို ငှားရမ်းကာ အအေးခန်းစက်ရုံ တည်ဆောက်ပြီး Sun Myanmar International Co., Ltd မှContract Processing စနစ်ဖြင့် ငါး၊ ပုစွန် အေးခဲထုတ်လုပ်ခြင်းနှင့် အရည်အသွေးမြင့်မားသည့် ငါး၊ ပုစွန် ကုန်ချောများ ထုတ်လုပ်ခြင်းလုပ်ငန်းကိုပါ ဆောင်ရွက်ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Sun Myanmar International Co., Ltd မှ အဆိုပြု တင်ပြခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

**(က) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ၊ မရှိ**

အဆိုပြုချက်တွင်ဖော်ပြထားသော Contract Processing စနစ်အတွက် ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာတစ်နှစ်လျှင် ပျှမ်းမျှကုန်ကြမ်း (၉၄၈.၈၆၉) တန်မှ ကုန်ချော (၅၆၉.၃၂၁၄) တန်ခန့်ထွက်ရှိမည်ဖြစ်ပြီး တစ်ရက်လျှင် ကုန်ချော(၁.၅၂)တန်ခန့် ပွက်ရှိနိုင်မည်ဖြစ်ပါသည်။

**(ခ) ဈေးနှုန်းဆိုင်ရာတွက်ချေကိုက်မှုရှိ၊ မရှိ**

အဆိုပြုချက်တွင်ဖော်ပြထားသော Contract Processing စနစ်အတွက် လုပ်အားခမှာတစ်တန်လျှင် အမေရိကန်ဒေါ်လာ (၅၂၄.၅၀) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့်ကုန်ကြမ်း တန် (၉၄၈.၈၆၉)တွင် ကုန်ချော (၅၆၉.၃၂၁၄) ထွက်ရှိပြီး အမေရိကန်ဒေါ်လာ ( ၂၉၈၆၀၉.၀၇၄၃) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် Sun Myanmar International Co., Ltd ၏ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာ တွက်ချေကိုက်မှု ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၅၃
၁၃၊၆၊၂၀၁၆

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အားအချိုးအစား ညီမျှမှုရှိ၊ မရှိ**

စက်ရုံတွင်တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ ငါး/ ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer ( 1 MT/ 6 hrs × 1No), Air Blast Freezer ( 5MT /7 hrs × 1 No)နှင့် ( 10 MT/ 12 hr × 2 Nos), တပ်ဆင်ထားပြီး စက်၏ Capacity အရ အနည်းဆုံးတစ်နေ့ ငါး (၁၀) တန်၊ ပုစွန် (၁.၅) တန် ထုတ်လုပ်နိုင်ကြောင်း သိရှိရပါသည်။ အဆိုပါ စက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် စက်မောင်း(၈)ဦးနှင့် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်း စုစုပေါင်း(၇၃)ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချော ထုတ်လုပ်မှု နှင့် စက်အင်အား၊ လူအင်အားအချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) **အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ချေကိုက်မှုရှိ၊ မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ချေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိ ချက်များအရသိရှိရပါသည်။ ထို့အပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်စင်သောစနစ် ၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များ တွေ့ရှိရပါသည်။

၃။ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနအနေဖြင့် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား အရည်အသွေးနှင့်စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။ လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ် ပြန်လည်တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများ အတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက Sun Myanmar International Co., Ltd ၏ လက်ခစားအပ်ကုန်စနစ်ဖြင့် ပြုပြင်ထုတ်လုပ်အေးခဲခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် အဆိုပြုချက်အား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်အား စိစစ်တင်ပြအပ်ပါသည်။

ခင်မောင်မော် ၂၀၊၆၊၂၀၁၆

ခင်မောင်မော်

ညွှန်ကြားရေးမှူးချုပ်

**ပြည်ထောင်စုဝန်ကြီးရုံး**

**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

မိတ္တူကို -

(၁) ညွှန်ကြားရေးမှူးချုပ်ရုံး၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) ဒုတိယညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၃) ရုံးလက်ခံ

နောက်ဆက်တွဲ- ဂ

MIC, 191/2016




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၆၄/ ၁၆)
ရက် စွဲ ၊ ၂ဝ၁၆ခုနှစ် မေ လ ၂ဝ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Sun Myanmar International Impex Company Limitedမှ ရေချိုနှင့်ရေငန်ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၅-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၆/ ၂ဝ၁၆(၄၁၉)

၁။ Sun Myanmar International Impex Company Limitedမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဒဂုံမြို့သစ်တောင်ပိုင်း၊ စက်မှုဇုန်-၁၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၄၆၉/၃ရှိစုစုပေါင်းမြေဧရိယာ၂.၅၇၁ဧကအနက် ဝ.၃၁ဧက(၁၂၅၄.၅၂စတုရန်းမီတာ)ကိုငှားရမ်းကာ Contract Processing(လက်ခစားစနစ်) စနစ်ဖြင့်ရေချိုနှင့်ရေငန်ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅ဝ)နှင့်(၁ဝ) နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်မှုကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ထုတ်လုပ်မှုအနေဖြင့်ပထမနှစ်တွင်ငါး၊ပုဇွန်စုစုပေါင်း ၄၈၄ မက်ထရစ်တန်မှ၁ဝနှစ်အတွင်း ၈၂၉.၄၉ မက်ထရစ်တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုစီမံချက် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်

ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ အမှိုက်များကို စနစ်တကျစွန့်ပစ်နိုင်ရန်အတွက် အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းခွင်စွန့်ပစ်အမှိုက်များကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏အစီအစဉ်ဖြင့် စွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ လေထုညစ်ညမ်းမှု၊ အသံဆူညံမှုမဖြစ်ပေါ်အောင် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Sun Myanmar International Impex Company Limitedမှ ရေချိုနှင့်ရေငန်ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းများကြောင့် ထွက်ရှိလာမည့်ငါး၊ ပုဇွန်အစအနများ၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း၊ အအေးခန်းစက်ရုံများတွင် အသုံးပြုမည့်ဓါတ်ငွေ့များကြောင့် အိုဇုန်းလွှာထိခိုက်ပျက်စီးစေခြင်းနှင့် လေထုအပေါ်သက်ရောက်မှုရှိနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sun Myanmar International Impex Company Limitedမှ ရေချိုနှင့်ရေငန်ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%)အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်

စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်**(Environmental Management Plan– EMP)အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



TIC, 201/316

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇(၅၁၅)
ရက်  စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇွန်လ ၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၅.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၃၆ / ၂၀၁၆ (၄၂၆)

၁။ Sun Myanmar International Impex Company Limited မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ်(၄၆၉/၃)တွင် Contract Processing(လက်ခစားစနစ်)ဖြင့် ရေချိုးနှင့် ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး Contract Processing (လက်ခစားစနစ်) ဖြင့် ရေချိုနှင့်ရေငန်ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ငွေး(င)အစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Sun Myanmar International Impex Company Limited မှ Contract Processing(လက်ခစားစနစ်)ဖြင့် ရေချိုနှင့် ရေငန်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁.၆.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန